# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၀၆/၂၀၁၇(၇၁၈.၈)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၂၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုး တည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဗြိတိန်နိုင်ငံ (British Virgin Islands) Cruilight Limited မှ ၉၀% နှင့် မြန်မာနိုင်ငံမှ Jade King & Queen Gems & Jewellery Company Limited မှ ၁၀% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Global Agriculture Joint Venture Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ တိုက်ကြီးမြို့နယ်၊ ဥက္ကံကြိုးဝိုင်း၊ ပဲခူးတိုင်း(အနောက်ပိုင်း)၊ သာယာဝတီမြို့နယ်၊ သုံးဆယ်ကြိုးဝိုင်းအတွင်းရှိ စုစုပေါင်း မြေဧရိယာ ၁၄,၉၀၀ ဧကကို ငှားရမ်း၍ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်အစည်းအဝေးအမှတ်စဉ်(၁၂/၂၀၁၇)သို့ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်အစည်းအဝေးမှ အဆိုပြုလုပ်ငန်းအား ဥက္ကံကြိုးဝိုင်းနှင့် သုံးဆယ်ကြိုးဝိုင်းရှိ မြေဧက ၁၀,၀၀၀တွင် ဆောင်ရွက်ခွင့် ပြုရန်ဆုံးဖြတ်ခဲ့ပါသည်။

၃။ မြေပိုင်ရှင် သစ်တောဦးစီးဌာနနှင့် ငှားရမ်းလုပ်ကိုင်ခွင့်ရရှိသူ Jade King & Queen Gems & Jewellery Company Limited တို့ ချုပ်ဆိုထားသော ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းဆိုင်ရာ စာချုပ်များအရ ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့်ကာလမှာ (၃၅)နှစ်စီ ဖြစ်ပြီး အောက်ပါအတိုင်း ငှားရမ်းလုပ်ကိုင်ခွင့် ရရှိထားပါသည်-

| စဉ် | တည်နေရာ | | | | ငှားရမ်းသည့်ခုနှစ် | အကျယ်အဝန်း (ဧက) | ကျန်ရှိသည့်သက်တမ်း |
|---|---|---|---|---|---|---|---|
| | တိုင်းဒေသကြီး | မြို့နယ် | ကြိုးဝိုင်းအမည် | အကွက်အမှတ် | | | |
| က | ပဲခူးတိုင်းဒေသကြီး(အနောက်ပိုင်း)၊ | သာယာဝတီမြို့နယ်၊ | သုံးဆယ်ကြိုးဝိုင်း | ၆၄, ၆၅, ၆၆, ၆၇, ၆၈, ၆၉, ၇၀, ၇၁ | ၁၇-၃-၂၀၁၀ မှ ၁၆-၃-၂၀၄၅ | ၃၀၀၀ | ၂၈ နှစ် |

| | | | | | | | |
|---|---|---|---|---|---|---|---|
| ခ | ရန်ကုန်တိုင်းဒေသကြီး | တိုက်ကြီးမြို့နယ် | ဥက္ကံကြိုးဝိုင်း | ၃၈, ၃၉, ၄၀, ၄၁ | ၈-၇-၂၀၁၁ မှ ၇-၇-၂၀၄၆ | ၂၁၄၁ | ၂၉ နှစ် |
| ဂ | ရန်ကုန်တိုင်းဒေသကြီး | တိုက်ကြီးမြို့နယ် | ဥက္ကံကြိုးဝိုင်း | ၃၉, ၄၀, ၄၁ | ၄-၁၂-၂၀၁၄ မှ ၃-၁၂-၂၀၄၉ | ၁၈၅၉ | ၃၂ နှစ် |
| ဃ | ပဲခူးတိုင်းဒေသကြီး(အနောက်ပိုင်း) | သာယာဝတီမြို့နယ် | သုံးဆယ်ကြိုးဝိုင်း | ၆၄, ၆၅, ၆၇, ၆၈, ၇၂, ၇၃, ၇၄, ၇၉ | ၁၈-၁၀-၂၀၁၃ မှ ၁၇-၁၀-၂၀၄၈ | ၃၀၀၀ | ၃၁ နှစ် |
| | | | | စုစုပေါင်းဧရိယာ | | ၁၀,၀၀၀ | |

**စိစစ်တင်ပြချက်**

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) မူလတင်ပြသည့် မြေဧက ၁၄,၉၀၀ အနက် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲမှုကော်မတီဗဟိုမှ ခွင့်ပြုထားသည့် မြေဧက ၄,၉၀၀အား နုတ်ပယ်၍ သစ်တောဦးစီးဌာနမှ ဌားရမ်းလုပ်ကိုင်ခွင့်ရရှိထားသည့် ဧက ၁၀,၀၀၀အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၇)မှ ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

(ခ) လုပ်ငန်းသက်တမ်းအား ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းဆိုင်ရာ စာချုပ်များပါ ဌားရမ်းလုပ်ကိုင်ခွင့်ပြုသည့်ကာလအရ ခွင့်ပြုမည်ဆိုပါက ကနဦး(၃၀)နှစ် ခွင့်ပြုနိုင်မည်ဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြု မည်ဆိုပါက ကနဦး(၅၀)နှစ် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းအနေဖြင့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၅၀)၊ ပုဒ်မခွဲ(ခ)အရ ကနဦး(၅၀)နှစ် ခွင့်ပြုနိုင်ပါကြောင်းနှင့် ဌားရမ်းလုပ်ကိုင်ခွင့် ကာလအား သစ်တောဦးစီးဌာန၏ ဥပဒေနှင့်အညီ ဆက်လက်သက်တမ်းတိုး ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၅။ Global Agriculture Joint Venture Company Limited မှ ပုဂ္ဂလိကကျွန်းစိုက်ခင်း စိုက်ပျိုးတည်ထောင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ

ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် လုပ်ငန်းသက်တမ်းအား ကနဦး (၃၀)နှစ်(သို့မဟုတ်) ကနဦး(၅၀)နှစ် မည်သို့ သတ်မှတ်သင့်သည်ကို ဆုံးဖြတ်ပေးနိုင်ပါရန်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ